ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅ (အ) / မ-၀၁၁/ ၂၀၁၆ (၄၅၉)က

ရက်စွဲ၊ ၂၀၁၆ ခုနှစ် အောက်တိုဘာ လ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Amazing Holidays Hotels & Resorts Co., Ltd. မှ ရခိုင်ပြည်နယ် အစိုးရအဖွဲ့နှင့် B.O.T စနစ်ဖြင့် (၉) ကျင်းပါ နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊ ဟိုတယ် နှင့် Service Apartment များ တည်ဆောက်လုပ်ကိုင်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ Amazing Holidays & Resorts Co., Ltd မှ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် B.O.Tစနစ်ဖြင့် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ရခိုင်ပြည်နယ်အစိုးရပိုင် ငပလီဂေါက်ကွင်းမြေ (၁၁၅.၁၂)ဧက တွင် ငပလီဂေါက်ကွင်းအားအဆင့်မြှင့်တင်ပြုပြင်ပြီး(၉)ကျင်းပါနိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊(၈၈)ခန်းပါ ဟိုတယ်နှင့် အခန်း(၄၀)ခန်းပါ Service Apartment များ တည်ဆောက်လုပ်ကိုင်ခြင်း လုပ်ငန်းအားမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် Amazing Holidays & Resorts Co., Ltd. တို့၏ ပြည်ထောင်စုရှေ့နေချုပ်ရုံး သဘောထားမှတ်ချက်နှင့်အညီ ပြင်ဆင်ထားသော ငပလီဂေါက်ကွင်းအား B.O.T စနစ်ဖြင့် ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း)၊ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ သင်းဖွဲ့မှတ်တမ်း နှင့် သင်းဖွဲ့စည်းမျဉ်းတို့ကို တင်ပြထားပါသည်။

၃။ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် Amazing Holidays Hotels & Resorts Co., Ltd.တို့ ချုပ်ဆိုမည့် B.O.T စာချုပ် (မူကြမ်း) ပါ အဓိကအချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) နှစ်စဉ် ငှားရမ်းခ(၁)နှစ်လျှင် ကျပ်သိန်း (၅၀၀) အား (၆)လ လျှင်တစ်ကြိမ် (၂) ကြိမ်ခွဲ၍ ပေးသွင်းရမည်ဖြစ်သည်။

(ခ) နှစ်စဉ်ငှားရမ်းခကို (၅) နှစ်တစ်ကြိမ် နှစ်ဖက်ပြန်လည် ညှိနှိုင်းသုံးသပ်မည်ဖြစ်၍ ငှားရမ်းခ ထပ်မံတိုးမြှင့်မည်ဆိုပါက တိုးမြှင့်ခနှုန်းသည် မူလငှားရမ်းခ၏ (၁၀%) ထက် မကျော်စေရ။

(ဂ) B.O.T စာချုပ်သည် တရားဝင် လက်မှတ် ရေးထိုးသည့်နေ့မှ စတင်၍ အကျိုးသက်ရောက်စေရမည်။

(ဃ) စာချုပ်သက်တမ်း ကုန်ဆုံးသည့်နေ့ (သို့မဟုတ်) စာချုပ် ရုပ်စဲသည့်နေ့မှ (၃)လ အတွင်း အငှားချထားသည့် မြေနှင့် အဆောက်အဦများ၊ ၎င်းမြေပေါ်ရှိ ဆောက်လုပ်ထားသော အဆောက်အဦနှင့် ပစ္စည်းများအားလုံး မည်သည့်အဖိုးစားနားမျှ မပါဘဲ ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်း ပေးအပ်ခြင်း ပြုရမည်။

သို့ရာတွင် ဟိုတယ်လုပ်ငန်းနှင့် မြေပေါ်တွင် အငှားချထားခြင်းခံရသူမှ ဆောက်လုပ်ခဲ့သည့်အဆောက်အဦတွင် တပ်ဆင်ထားသည့် (Fixture) ပစ္စည်းများ မှအပ ကျန်ရွှေ့ပြောင်းနိုင်သည့် ပစ္စည်းများ အားလုံးကို အငှားချခြင်းခံရသူမှ ယူဆောင်သွားခြင်းပြုနိုင်သည်။

၄။ နှစ်စဉ်မြေငှားရမ်းခအနေဖြင့် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်ရှိရခိုင်ပြည်နယ်အစိုးရအဖွဲ့ပိုင်မြေ (၁၁၅.၁၂) ဧကအား တစ်နှစ်လျှင် ကျပ် ၅၀၀ သိန်း နှုန်းဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါကြောင်းနှင့် ပြည်နယ်အစိုးရ ရန်ပုံငွေအဖြစ် မြေအသုံးချမှု ပရီမီယံကြေး ကျပ် (၁၀,၀၀၀) သိန်းအား အောက်ပါအတိုင်း(၄)ကြိမ်ခွဲ၍ ပေးသွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်-

(က) B.O.T စာချုပ် ချုပ်ဆိုပြီး (၁)လအတွင်း ပထမအကြိမ် ကျပ်သိန်း ၁,၇၀၀ (ကျပ် သိန်းပေါင်းတစ်ထောင့်ခုနစ်ရာတိတိ)အားလည်းကောင်း၊

(ခ) ဒုတိယအကြိမ်အဖြစ် B.O.T စာချုပ်ချုပ်ဆိုပြီး(၆)လအတွင်း ကျပ်သိန်း ၂,၇၆၇ (ကျပ်သိန်းပေါင်း နှစ်ထောင့်ခုနစ်ရာ ခြောက်ဆယ့်ခုနစ်သိန်းတိတိ)အားလည်းကောင်း၊

(ဂ) တတိယအကြိမ်အဖြစ် B.O.T စာချုပ်ချုပ်ဆိုပြီး (၁၂)လ အတွင်း ကျပ်သိန်း ၂,၇၆၇ (ကျပ်သိန်းပေါင်းနှစ်ထောင့်ခုနစ်ရာခြောက်ဆယ့်ခုနစ်သိန်းတိတိ)အားလည်းကောင်း၊

(ဃ) စတုတ္ထအကြိမ်အဖြစ် B.O.T စာချုပ်ချုပ်ဆိုပြီး (၁၈)လ အတွင်း ကျပ်သိန်း ၂,၇၆၆ (ကျပ်သိန်းပေါင်းနှစ်ထောင့်ခုနစ်ရာခြောက်ဆယ့်ခြောက်သိန်းတိတိ)

၅။ လုပ်ငန်းသက်တမ်းကာလမှာ ကနဦး ၅၀ နှစ် နှင့် (၁၀)နှစ်(၂)ကြိမ် သက်တမ်းတိုးမြှင့်ငှားရမ်းပြီးလုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ပြီးတည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်၍ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီး(၁)နှစ်အတွင်း လုပ်ငန်းစတင်ဆောင်ရွက်မည်ဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၆.၆၁ သန်းအပါအဝင် ကျပ် ၁၁,၆၉၇.၂၀ သန်းဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၆.၆၁ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးယာဉ်၊ ယန္တရား၊ စက်ပစ္စည်းများအားပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း(ကျပ်သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁,၅၀၈.၃၆ | - | ၁,၅၀၈.၃၆ |
| (ခ) | စက်နှင့်စက်ပစ္စည်းကိရိယာများ | - | ၀.၄၅ | ၅၄၀.၅၂ |
| (ဂ) | အဆောက်အအုံများ | ၂,၂၅၇.၃၃ | ၃.၈၀ | ၆,၈၂၈.၃၅ |
| (ဃ) | ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ | - | ၁.၁၈ | ၁,၄၂၀.၀၅ |
| (င) | လျှပ်စစ်ပစ္စည်းများ | - | ၁.၁၇ | ၁,၃၉၉.၉၀ |
| | စုစုပေါင်း | ၃,၇၆၅.၆၉ | ၆.၆၁ | ၁၁,၆၉၇.၂၀ |

၇။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း (၁၂၀) ဦး ခန့်ထား ဆောင်ရွက်မည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာကျပ် ၁၀၈,၀၀၀၊ အမြင့်ဆုံးလစာမှာ ကျပ် ၈၀၀,၀၀၀ ဖြစ်၍ ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၈။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်တွင် ဝန်ဆောင်မှုပေးမည့်(ယူနစ်)နှင့် ဝန်ဆောင်ခနှုန်း (US$) တို့မှာအောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အခန်းအရေအတွက် | ဝန်ဆောင်ခနှုန်း (တစ်ရက်/တစ်ခန်း) | |
|---|---|---|---|---|
| | | | ကျပ် | US$ |
| Hotel | | | | |
| (က) | Executive Suite | ၄ | ၁၇၁,၀၀၀ | ၁၈၀ |
| (ခ) | Suite | ၄ | ၁၄၂,၅၀၀ | ၁၅၀ |
| (ဂ) | Deluxe | ၈၀ | ၈၅,၀၀၀ | ၈၀ |
| Service Apartment | | | | |
| (က) | Villa-B, 2 Bed room w Pool | ၁၃ | ၂,၈၈၀,၀၀၀ | ၂,၄၀၀ |
| (ခ) | Villa-A, 2 Bed room w Pool | ၂၃ | ၃,၃၆၀,၀၀၀ | ၂,၈၀၀ |
| Golf Course Income | | | | |
| Green Fees | | No. of Person | Rate | |
| | | | Kyat | US$ |
| (က) | Local (၇၀ %) | ၂,၅၂၀ | ၂၅,၀၀၀ | ၃၅ |
| (ခ) | Foreign (၃၀ %) | ၁,၀၈၀ | ၂၅,၀၀၀ | ၃၅ |

၉။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၂,၁၈၁.၁၆ |
| (ခ) | အသုံးစရိတ် | ၁,၄၅၈.၀၃ |
| (ဂ) | အသားတင်အမြတ် | ၇၂၃.၁၃ |

၁၀။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ်ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၂၄၁.၀၄ သန်းနှင့်ကုန်သွယ်လုပ်ငန်းခွန် ကျပ် ၁၀၉.၀၆ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ(၉)နှစ်နှင့် (၄)လဖြစ်၍ အရင်းအနှီးအပေါ် အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၀.၀၂ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရခိုင်ပြည်နယ်အစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြ စီမံကိန်းကို ထိခိုက်မှုမရှိခြင်း၊ ပြည်သူတို့၏ လူမှုစီးပွားကို ထိခိုက်မှုမရှိခြင်း၊ မြို့နယ် ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ခြင်း၊ ဖော်ပြပါမြေနေရာအား အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း အပေါ် ဒေသခံများကလူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ

လက်ခံနိုင်မှုရှိခြင်း၊ လုပ်ငန်းမြေနေရာ ဖြစ်ခြင်းတို့ကြောင့် ရခိုင်ပြည်နယ်အစိုးရပိုင် ငပလီဝေါက်ကွင်းမြေ (၁၁၅.၁၂)ဧကတွင် Amazing Holiday Hotel & Resorts Co., Ltd. မှ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် B.O.T စနစ်ဖြင့် ငပလီဝေါက်ကွင်း အဆင့်မြှင့်တင် ပြုပြင်ခြင်းလုပ်ငန်းအားရခိုင်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ခ)** အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျှော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility –CSR)အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကိုအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းများကြောင့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination – IEE) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်၊ အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ သဘာဝကမ်းခြေ၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ ရေဆိုးစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျှော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊ **(ကုမ္ပဏီမှ သယံ**

ဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက် **နှင့်အညီပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (IEE)၊ ပတ်ဝန်းကျင်စီမံခန့်ခွဲမှု(EMP)အစီရင်ခံစာအား ၃ လ အတွင်းတင်ပြမည်ဖြစ်ပါကြောင်းတင်ပြထားပါသည်။)**

(ဂ) **ဟိုတယ်နှင့်ခရီးသွားလာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**

(၁) ကမ်းခြေဒေသတွင် တည်ဆောက်မည်ဖြစ်၍ စနစ်တကျကြီးကြပ် ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါသဖြင့် (၉)ကျင်းပါ နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ အခန်း(၈၈)ခန်းပါ ဟိုတယ်လုပ်ငန်းနှင့် အခန်း(၄၀)ပါ Service Apartment များ တည်ဆောက်ခြင်းနှင့်စပ်လျဉ်း၍ ရခိုင်ပြည်နယ် စည်ပင်သာယာရေးအဖွဲ့တို့၏ ခွင့်ပြုချက်များ တင်ပြဆောင်ရွက်သွားရန်။

(၂) ဟိုတယ် တည်ဆောက်ရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာနမှ (၁-၁-၂၀၁၅)ရက်စွဲဖြင့် ထုတ်ပြန်ထားသောအမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅) ၏ကမ်းခြေခရီးစဉ်ဒေသ ရေရှည်တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန်အချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့်အထူးသဖြင့် သတ်မှတ်အမြင့်ပေထက်ပို၍ထပ်ခိုးတင်ခြင်း၊အမိုးထပ်တင်ခြင်းများ၊တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန် ကမ်းခြေသောင်များ၌ သဲများတူးခြင်းများမပြုလုပ်ရန်။

(၃) ဟိုတယ် ငှားရမ်းခန္ဓန်းထားများနှင့် အသုံးပြုမည့် ပစ္စည်းများ၊ ပေးအပ်မည့် ဝန်ဆောင်မှုများလျော်ကန်သင့်တင့်ရန်။

(၄) ငပလီကမ်းခြေကို အဆင့်မြင့် ခရီးသွားလုပ်ငန်းဖွံ့ဖြိုးရေးဇုန် တစ်ခုအဖြစ် ဖော်ထုတ်ရန် ဆောင်ရွက်ခြင်း၊ မြန်မာနိုင်ငံသို့ ကမ္ဘာလှည့်ခရီးသည် ရောက်ရှိမှုသည် ပိုမိုတိုးတက်လာပြီး ငပလီကမ်းခြေ၌လည်း နိုင်ငံတကာအဆင့်မီ ဟိုတယ်အခန်းများလိုအပ်ခြင်း၊ ရခိုင်ပြည်နယ်အစိုးရအဖွဲ့မှ တရားဝင် ငှားရမ်းဆောင်ရွက်မည် ဖြစ်ခြင်းတို့ကြောင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ဟိုတယ်နှင့် ခရီးသွားလာရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။)**

**(ဃ) မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း** **(နောက်ဆက်တွဲ-ဃ)**

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် **ရခိုင်ပြည်နယ်**၊ သံတွဲမြို့နယ်တွင် တည်ဆောက်မည့် (၈၈) ခန်းပါ ဟိုတယ်နှင့် အခန်း (၄၀) ခန်းပါ Service Apartment များ ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန်နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၁၂။ မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအတွက်ဟိုတယ်မြေနေရာတွင် ရေဂါလံ (၂၀၀,၀၀၀)ဆန့် မြေအောက်ရေသိုလှောင်ကန်အား ထည့်သွင်း တည်ဆောက်သွားမည်ဖြစ်ကြောင်း၊ ဟိုတယ်အတွင်း သတ်မှတ်နေရာများတွင် မီးသတ်ဆေးဘူးများထားရှိမည်ဖြစ်ပြီး၊ Auto Fire Ball, Sprinkle Smoke Detector များ တပ်ဆင်ထားရှိမည်ဖြစ်ကြောင်း၊ ဝန်ထမ်းများအား အရေးအပေါ် အခြေအနေတွင် မီးငြိမ်းသတ်နိုင်ရန် သင်တန်းပေးသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ ငွေကြေးအထောက်အထားအဖြစ် Amazing Holidays Hotels & Resorts Co., Ltd. မှ ဒါရိုက်တာ ဒေါ်အေးအေးမြင့် အမည်ဖြင့် ဧရာဝတီဘဏ်၌ ၂၀၁၆ ခုနှစ်၊ မတ် လ ၁၁ ရက်နေ့ ရက်စွဲဖြင့် ကျပ်ငွေ (၅,၁၁၁,၈၇၂,၇၈၅.၉၂) ရှိကြောင်း တင်ပြထားပါသည်။

၁၄။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်၊ ဝန်ထမ်းများအတွက် လစာဝင်ငွေခွန်ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကို တင်ပြထားပြီးလူမှုဘဝ သာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် အသားတင်အမြတ်၏ ၂ % ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၅။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် မတ် ၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၁၀/၂၀၁၆) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၆။ (က) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့် စုစုပေါင်းမြေ ၁၁၅.၁၂ ဧက အနက် ၆၉.၅၉ ဧကမှာ သံတွဲခရိုင် ဂေါက်ကွင်းမြေနေရာအဖြစ် အသုံးပြုရန် လ/န(၃၉)ကျပြီးဖြစ်ကြောင်း ကျန် ၄၅.၅၃ ဧက မှာ မြေလွတ်မြေရိုင်းဖြစ်၍ ရခိုင်ပြည်နယ်အစိုးရအဖွဲ့မှ မြေလွတ်၊ မြေလပ်နှင့် မြေရိုင်းများ စီမံခန့်ခွဲရေး ဗဟိုကော်မတီသို့ မြေအသုံးပြုခွင့် တင်ပြထားကြောင်းစိစစ်တင်ပြအပ်ပါသည်။

(ခ) ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် Amazing Holidays Hotels & Resorts Co., Ltd. တို့ချုပ်ဆိုမည့် B.O.T စာချုပ်အရ ကုမ္ပဏီမှ မြေအသုံးချမှု ပရီမီယံကြေးကျပ် (၁၀,၀၀၀) သိန်း အား ပြည်နယ်အစိုးရ ရန်ပုံငွေအဖြစ် ပေးသွင်းမည်ဖြစ်ကြောင်း၊ ငပလီဂေါက်ကွင်း ငှားရမ်းခြင်းအတွက် တစ်နှစ်လျှင် ကျပ် (၅၀၀) သိန်းအားရခိုင်ပြည်နယ် အစိုးရအဖွဲ့သို့ ပေးသွင်းဆောင်ရွက်မည်ဖြစ်ပါသည်။

(ဂ) ကုမ္ပဏီအနေဖြင့် အဆိုပြုလုပ်ငန်းဆောင်ရွက်ရန် ပြည်ပမှ အမေရိကန်ဒေါ်လာ ၆.၆၁ သန်းတန်ဖိုးရှိ ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများနှင့် တည်ဆောက်ရေး လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းဆောင်ရွက်မည်ဖြစ်ပြီး အခွန်အကောက်ကင်းလွတ်ခွင့် သက်သာခွင့်ခံစားနိုင်မည်ဖြစ်ပါသည်။

(ဃ) ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR အစီအစဉ်အနေဖြင့် ဝန်ထမ်းများအား နိုင်ငံတော်မှ သတ်မှတ်နှုန်းထားအတိုင်း အခြေခံလစာဖြင့် ခန့်ထားခြင်း၊ ဝန်ထမ်းများအား စာမေးပွဲဖြေဆိုရန်ခွင့်ရက်ပေးခြင်း၊ ဝန်ထမ်းများ၏ကျန်းမာရေးစောင့်ရှောက်မှုအနေဖြင့် လူမှုဖူလုံရေးဥပဒေနှင့်အညီ ကျန်းမာရေး ထောက်ပံ့မှုများပေးခြင်း၊ ပညာထူးချွန်သောကျောင်းသားများအား ပညာသင်ထောက်ပံ့ကြေး ပေးအပ်ခြင်း၊ Amazing Foundation အနေဖြင့် သံတွဲမြို့အတွင်း ကျန်းမာရေးဆေးပေးခန်းတည်ဆောက်ခြင်း၊

ရေဘေးဒုက္ခကြုံတွေ့နေရသည့် ရွာများသို့ ဆန်နှင့် အသုံးအဆောင်ပစ္စည်းများ ပေးပို့လှူဒါန်းခြင်း၊ နွေရာသီရေရှားသည့်ကျေးရွာနှင့် သံတွဲမြို့ပေါ်ရပ်ကွက်များသို့ ရေများလှူဒါန်းခြင်းကို နှစ်စဉ်ဆောင်ရွက်ခြင်း၊ ငပလီကမ်းခြေသာယာလှပရေးအတွက် ဟိုတယ်ဇုံဝန်ထမ်းများစုပေါင်းလစဉ်သန့်ရှင်းရေးလုပ်ဆောင်ကြခြင်းဖြင့်ဒေသတွင် လူမှုစီးပွားအကျိုးပြုလုပ်ငန်းအား ဆောင်ရွက်လျက်ရှိကြောင်းနှင့် နောင်တွင်လည်း ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ကြောင်းတင်ပြထားပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၇။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Amazing Holidays Hotels & Resorts Co., Ltd. မှ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် B.O.T စနစ်ဖြင့် (၉) ကျင်းပါ နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊ ဟိုတယ်နှင့် Service Apartment များ တည်ဆောက်လုပ်ကိုင်ခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်း ကိစ္စအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ

နောက်ဆက်တွဲ(က)

M4-716
30.6.16

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရခိုင်ပြည်နယ်

စာအမှတ်၊ (၁၄၉)/ ၄ / ၈-၁ (စီးပွား) အဖရ(ရခိုင်)
ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ၊ ဇွန်လ ၂၉ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၄-၆-၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရကာ-၅(အ)/မ-၀၁၁/ ၂၀၁၆(၃၄၃)

၁။ Amazing Holiday Hotel & Resorts Co; Ltd မှ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် BOTစနစ်ဖြင့် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ရခိုင်ပြည်နယ်အစိုးရပိုင် ငပလီဂေါက်ကွင်းမြေ(၁၁၅.၁၂)ကေတွင် ငပလီဂေါက်ကွင်းအား အဆင့်မြင့်တင်ပြုပြင်ပြီး ဂေါက်သီးရိုက်ကစားသမားများ အဆင်ပြေစွာ တည်းခိုနိုင်ရေးအတွက် (၉)ကျင်းပါ နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ (၈၈)ခန်းပါဟိုတယ်နှင့် အခန်း (၄၀)ခန်းပါService Apartmentများ တည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန် အဆိုပြုတင်ပြထားရှိမှုနှင့်ပတ်သက်၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာ လုပ်ထုံးလုပ်နည်းများ အခန်း(၃)၊ အပိုဒ်(၁၁)ပါ ပြဋ္ဌာန်းချက်နှင့်အညီ အဆိုပြုချက်ကို ကော်မရှင်မှ စိစစ်ရာတွင် သက်ဆိုင်ရာအဖွဲ့အစည်း၏ သဘောထားတောင်းခံရန် လိုအပ်ပါသဖြင့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်ခွင့်အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ တိုင်းဒေသကြီးနှင့် ပြည်နယ်အစိုးရ၏ ထောက်ခံချက်အား အထူးအလေးထား စဉ်းစားပါသဖြင့် ဝန်ကြီးချုပ်ကိုယ်တိုင် စိစစ်လက်မှတ်ရေးထိုးပြီး ထောက်ခံပေးနိုင်ပါရန်နှင့် ရခိုင်ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ရက်သတ္တပတ် တစ်ပတ်အတွင်း ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းအကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ သက်ဆိုင်ရာဌာနအဖွဲ့အစည်းများ၏ ကွင်းဆင်းစိစစ်ချက်များအရ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်မှုမရှိခြင်း။

(ခ) ပြည်သူတို့၏ လူမှုစီးပွားကို ထိခိုက်နိုင်မှုမရှိခြင်း။

(ဂ) မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူဖြစ်ခြင်း။

(ဃ) ဖော်ပြပါ မြေနေရာအား အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်မှုရှိခြင်း။

(ဂ) လုပ်ငန်းဆောင်ရွက်မည့် မြေနေရာဖြစ်ခြင်း။

၃။ သို့ဖြစ်ပါ၍ အထက်ဖော်ပြပါ ရခိုင်ပြည်နယ်အစိုးရပိုင် ငပလီဂေါက်ကွင်းမြေ(၁၁၅.၁၂)ဧကတွင် Amazing Holiday Hotel & Resorts Co; Ltd မှ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် BOTစနစ်ဖြင့် ငပလီဂေါက်ကွင်း အဆင့်မြှင့်တင်ပြုပြင်ခြင်းလုပ်ငန်းအား ရခိုင်ပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်နယ်ဝန်ကြီးချုပ် (ကိုယ်စား)
(ကျော်အေးသိန်း၊ဘဏ္ဍာ၊ အခွန်၊ စီမံကိန်းနှင့် စီးပွားရေးဝန်ကြီး)

မိတ္တူကို
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ(ခ)

ရင်းနှီးမြှုပ်နှံမှုဥာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၁၈၂/၁၆ )
ရက် စွဲ၊၂ဝ၁၆ခုနှစ် မတ်လ ၂၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Amazing Holiays Hotles & Resorts Co.,Ltd မှ (၉)ကျင်းပါ နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ (၈၈)ခန်းပါဟိုတယ်နှင့် အခန်း(၄ဝ)ခန်းပါ Service Apartment များတည်ဆောက်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁ဝ-၃-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၅(အ)/ မ-ဝ၁၃/ ၂ဝ၁၆(၁၄၉)

၁။ Amazing Holiays Hotles & Resorts Co.,Ltd မှ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် BOT စနစ်ဖြင့် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ ရခိုင်ပြည်နယ်အစိုးရပိုင် ငပလီဂေါက်ကွင်းအား အဆင့်မြှင့်တင်ပြုပြင်ပြီး ဂေါက်သီးရိုက်ကစားသမားများ အဆင်ပြေတည်ခိုနိုင်ရေးအတွက် (၉)ကျင်းပါ နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ (၈၈)ခန်းပါဟိုတယ်နှင့်အခန်း(၄ဝ)ပါ Service Apartment များ တည်ဆောက်ခြင်းလုပ်ငန်းများအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅ဝ)နှင့်သက်တမ်းတိုး(၁ဝ)နှစ်(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၂)နှစ်ဖြစ်ကြောင်း၊ ဝန်ထမ်းများ သက်သာချောင်ချိရေးနှင့်သာယာပျော်ရွှင်ရေးအစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုအစီအမံများကိုလည်း ထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏(၂%)ကို လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility– CSR )လုပ်ငန်းများတွင်ထည့် ဝင်အသုံးပြုသွားမည်

ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ဆောက်လုပ်ရေးလုပ်ငန်းများမှထွက်ရှိလာမည့် မြေစာနှင့်စွန့်ပစ်ပစ္စည်းများအား စနစ်တကျစွန့်ပစ်သွားမည်ဖြစ်ကြောင်းနှင့် ချမှတ်ထားသောစည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ Amazing Holiays Hotles & Resorts Co.,Ltd မှ တည်ဆောက်ရေးလုပ်ငန်းဆောင်ရွက်မည့်နေရာသည် သဘာဝကမ်းခြေနယ်မြေဖြစ်ခြင်း၊ သဘာဝကမ်းခြေကို အမှီပြုဆောင်ရွက်သည့်အတွက် ၎င်းဧရိယာအတွင်း ထိခိုက်မှုမရှိအောင်အထူးဂရုပြုဆောင်ရွက်ခြင်း၊ တည်ဆောက်ရေးလုပ်ငန်းများဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသားပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှထွက်ရှိလာမည့် မြေသားအမှုန်အမွှားများ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းခြင်း၊ တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော အမဲဆီ၊ အင်ဂျင်ဝိုင်၊ ဖိတ်စင်စက်သုံးဆီများနှင့် အသံဆူညံမှုများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ ဟိုတယ်လုပ်ငန်းများဆောင်ရွက်ရာတွင် မီးဖိုချောင်နှင့်စားသောက်ခန်းများမှထွက်ရှိလာမည့် စားကြွင်းစားကျန်များ၊ စွန့်ပစ်အမှိုက်များ၊ စွန့်ပစ်ရေဆိုးများကြောင့် လည်းကောင်း၊ ဂေါက်ကွင်းရှိရေနုတ်မြောင်းများမှတဆင့် စီးဆင်းမည့်ရေဆိုးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Amazing Holiays Hotles & Resorts Co.,Ltd မှ (၉)ကျင်းပါ နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ (၈၈)ခန်းပါဟိုတယ်နှင့်အခန်း(၄၀)ပါ Service Apartment များတည်ဆောက်ခြင်းလုပ်ငန်းအား လုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility–CSR )အတွက် အသားတင်အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်

အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရန် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း**( Initial Environmental Examination –IEE)ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ သဘာဝကမ်းခြေ၊ ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်/ ရေဆိုးစီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေ ရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Manangement Plan – EMP)ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ(ဂ)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၈ - ဂ (အုပ်ချုပ်မှု)/နပတ/ ၁၈၇၄
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ် လ ၂၂ ရက်။

MPT.966
24-3-16

သို့

M4-297
25-3-16

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၅-၃-၂၀၁၆)ရက်စွဲပါစာအမှတ် ရက - ၅(အ)/မ-၁၁၁/၂၀၁၆ (၁၆၂)

၁။ Amazing Holidays Hotels & ResortsCo.,Ltd မှ ရခိုင်ပြည်နယ်အစိုးရအဖွဲ့နှင့် BOT စနစ်ဖြင့်ရခိုင်ပြည်နယ်၊သံတွဲမြို့နယ်၊ရခိုင်ပြည်နယ်အစိုးရပိုင်ငပလီဂေါက်ကွင်းမြေ(၁၁၅.၁၂)ဧကတွင် ငပလီဂေါက်ကွင်းအား အဆင့်မြှင့်တင်ပြုပြင်ပြီး ဂေါက်သီးရိုက်ကစားသမားများအဆင်ပြေစွာ တည်းခိုနိုင်ရေးအတွက်(၉)ကျင်းပါနိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊(၈၈)ခန်းပါ ဟိုတယ်နှင့်အခန်း(၄၀)ခန်းပါ Service Apartment များ တည်ဆောက်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီဆောင်ရွက်ခွင့်ပြုပါရန် ရခိုင်ပြည်နယ်အစိုးရအဖွဲ့မှတဆင့် အဆိုပြုတင်ပြလာခြင်း အပေါ် သဘောထားမှတ်ချက်ပေးနိုင်ပါရန်မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ငပလီကမ်းခြေကိုအဆင့်မြင့်ခရီးသွားလုပ်ငန်းဖွံ့ဖြိုးရေးဇုန်တစ်ခုအဖြစ် ဖော်ထုတ်ရန်ဆောင်ရွက်ခြင်း၊ မြန်မာနိုင်ငံသို့ကမ္ဘာလှည့်ခရီးသည် ရောက်ရှိမှုသည် ပိုမိုတိုးတက်လာပြီး ငပလီကမ်းခြေ၌လည်း နိုင်ငံတကာအဆင့်မီဟိုတယ်အခန်းများ လိုအပ်ခြင်းတို့ကြောင့်ယခုကဲ့သို့ Amazing Holidays Hotels & ResortsCo.,Ltd မှ အခန်း(၈၈)ခန်းပါ ဟိုတယ်အား တည်ဆောက်ဆောင်ရွက်မည်ဖြစ်ခြင်းနှင့် ရခိုင်ပြည်နယ်အစိုးရအဖွဲ့မှ တရားဝင်ငှားရမ်းဆောင်ရွက်မည်ဖြစ်ခြင်းတို့ကြောင့် ကန့်ကွက်ရန်မရှိပါ။

၃။ ကမ်းခြေဒေသတွင်တည်ဆောက်မည်ဖြစ်၍ စနစ်တကျကြီးကြပ်ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်သဖြင့်(၉)ကျင်းပါ နိုင်ငံတကာအဆင့်မီဂေါက်ကွင်း၊ အခန်း(၈၈)ခန်းပါ ဟိုတယ်လုပ်ငန်းနှင့် အခန်း(၄၀)ခန်းပါ Service Apartment များတည်ဆောက်ခြင်းနှင့်စပ်လျဉ်း၍ရခိုင်ပြည်နယ်စည်ပင်သာယာရေးအဖွဲ့တို့၏ ခွင့်ပြုချက်များတင်ပြဆောင်ရွက်သွားရန်လိုအပ်ပါသည်။

၄။ ဟိုတယ်တည်ဆောက်ရေးအတွက် ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနမှ (၁-၁-၂၀၁၅) ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် (၂/၂၀၁၅) ၏ ကမ်းခြေခရီးစဉ်ဒေသရေရှည် တည်တံ့ခိုင်မြဲရေးအတွက် လိုက်နာဆောင်ရွက်ရန်အချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားရန်လိုအပ်ပါသည်။ အထူးသဖြင့် သတ်မှတ်အမြင့်ပေထက်ပို၍ ထပ်ခိုးတင်ခြင်း၊ အမိုးထပ်တင်ခြင်းများ၊တည်ဆောက်ရေးလုပ်ငန်းများတွင် အသုံးပြုရန်ကမ်းခြေသောင်များ၌ သဲများတူးခြင်းများအားမပြုလုပ်ရန်လိုအပ်ပါသည်။

၅။ Amazing Holidays Hotels & ResortsCo.,Ltd မှငှားရမ်းမည့် အခန်းခ နှုန်းထားတွင် Executive Suite(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ(၁၈၀) မြန်မာငွေကျပ်အနေနှင့်ကျပ်(၁၇၁၀၀၀)၊ Suite(၁)ခန်းလျှင်အမေရိကန်ဒေါ်လာ(၁၅၀)မြန်မာငွေကျပ်အနေနှင့်ကျပ်(၁၄၂၅၀၀)၊Deluxe(၁)ခန်းလျှင် အမေရိကန်ဒေါ်လာ (၈၀)မြန်မာငွေကျပ်အနေနှင့် ကျပ်(၈၀၀၀၀)စသည်ဖြင့်နှုန်းများ သတ်မှတ်ဖော်ပြထားသဖြင့် အနည်းငယ်မြင့်မားသော ဈေးနှုန်းဖြစ်၍ ငှားရမ်းခနှုန်းထားများနှင့် အသုံးပြုမည့်ပစ္စည်းများ၊ ပေးအပ်မည့်ဝန်ဆောင်မှုများလည်း လျော်ကန်သင့်တင့်ရန် လိုအပ်ပါသည်။

၆။ Amazing Holidays Hotels & ResortsCo.,Ltd မှဆောင်ရွက်မည့် ဟိုတယ်လုပ်ငန်းအတွက် အသုံးပြုသွားမည့်ပြည်ပမှ တင်သွင်းမည့်တည်ဆောက်ရေးပစ္စည်းများ ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများနှင့်ပတ်သက်၍အခွန်သက်သာခွင့်မှာကော်မရှင်၏အဆုံးအဖြတ်၊မြန်မာအင်ဂျင်နီယာအသင်းတို့၏ထောက်ခံချက်ဖြင့်သာဆောင်ရွက်ရမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

၇။ ဟိုတယ်လုပ်ငန်းလိုင်စင်လျှောက်ထားရာတွင် အိပ်ခန်းအရေအတွက်နှင့်အချိုးညီ ခန့်အပ်မည့်ဝန်ထမ်းအားလုံးသည် ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာသင်တန်းဆင်းလက်မှတ်များ တင်ပြနိုင်ရန်လိုအပ်သဖြင့် ကြိုတင်စီမံဆောင်ရွက်ထားနိုင်ရန်နှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်ပြီးရေဆိုး၊ အမှိုက်နှင့်အညစ်အကြေးစွန့်ပစ်မှုစနစ်များအားစနစ်တကျ စီမံဆောင်ရွက်ထားရန်လိုအပ်ပါသည်။

၈။ ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပြီးပါက မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်ကိုဤဝန်ကြီးဌာနသို့ဆက်လက်လျှောက်ထားရယူသွားရန်လိုအပ်ပါကြောင်းကိုလည်းတင်ပြအပ်ပါသည်။

၂၂.၃.၂၀၁၆

( ဦးဌေးအောင် )
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို -
ရုံးလက်ခံ/မျှော

C-1-5Remark -LH

နောက်ဆက်တွဲ(ယ)


မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

**MYANMAR ENGINEERING SOCIETY**

Hlaing Universities' Campus, Hlaing Township, Yangon, Myanmar

Tel : 95-1-519673 ~ 76, Fax : 95-1-519681

E-mail:mes@mptmail.net.mm, Website: www.mes.org.mm


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M4-958
3.10.16

စာအမှတ် ၊ မအသ / MIC/ ၀၅၄၃/၂၀၁၆ ။

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ ၊ စက်တင်ဘာလ၊ ( ၃၀ ) ရက်။

အကြောင်းအရာ ။ ။ **Amazing Holidays Hotels & Resorts Co.,Ltd ၏ (၉) ကျင်းပါ နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊(၈၈) ခန်းပါဟိုတယ်နှင့် အခန်း(၄၀) ပါ Service Apartment များ တည်ဆောက်ခြင်း လုပ်ငန်းဆောင်ရွက်ရန် ကိစ္စ။**

ရည်ညွှန်းချက်။ ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄.၃.၂၀၁၆ ရက်စွဲပါ စာအမှတ် ၊ရက-၅(အ)/မ-၀၁၁ / ၂၀၁၆ (၂၁၇)။

၁။ အထက်ပါအကြောင်းအရာနှင့် ပတ်သတ်၍ရည်ညွှန်းချက်ပါစာအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ မြန်မာနိုင်ငံ အင်ဂျင်နီယာအသင်းသို့သက်ဆိုင်ရာ Amazing Holidays Hotels & Resorts Co.,Ltd မှ ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ်၊ရခိုင်ပြည်နယ် အစိုးရပိုင် ပေလီဂေါက်ကွင်းမြေ (၁၁၅.၁၂) ကေ တွင် ပေလီဂေါက်ကွင်းအား အဆင့်မြှင့်တင်ပြုပြင်ပြီး တည်းခိုနိုင်ရေးအတွက် (၉) ကျင်းပါ နိုင်ငံတကာအဆင့်မီ ဂေါက်ကွင်း၊(၈၈) ခန်းပါဟိုတယ်နှင့် အခန်း(၄၀) ပါ Service Apartment များ တည်ဆောက်ခြင်း လုပ်ငန်း နှင့်ပတ်သတ်၍ လိုအပ်သော သဘောထား မှတ်ချက် ပေးရန် အကြောင်းကြားခဲ့ပါသည်။

၂။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်းတွင် ဖွဲ့စည်းထားသော MIC Projects Assessment Committee မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ သဘောထားမှတ်ချက်ပေးနိုင်ရေး အတွက် Presentation ပြုလုပ်ရန်ဖိတ်ကြားချက်အရ Amazing Holidays Hotels & Resorts Co.,Ltd မှ တာဝန် ရှိသူများမှ (၈-၆-၂၀၁၆) ရက်နေ့တွင် မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း သို့ လာရောက်၍ စီမံကိန်း နှင့် ပတ်သတ်သော အချက်အလက်များကို ရှင်းလင်းတင်ပြခဲ့သည်။

၃။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း မှ MIC Projects Assessment Committee အဖွဲ့ဝင် များဖြစ်ကြသော ဥက္ကဋ္ဌ ဦးအောင်မြင့်၊ အတွင်းရေးမှူး ဦးကြည်လွင်၊အဖွဲ့ဝင် များဖြစ်ကြသော ဦးကျော်စန်ဝင်း၊ ဦးကိုကိုကြီး၊ ၊ ဦးခင်မောင်ဝင်း၊ ဦးခင်မောင်ငွေ၊ ဦးခင်မောင်မောင် တို့တက်ရောက်ခဲ့ကြပါသည်။

၄။ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ MIC Projects Assessment Committee အနေဖြင့် ရခိုင်ပြည်နယ်၊ သံတွဲမြို့နယ် တွင် တည်ဆောက်မည့် (၈၈) ခန်းပါဟိုတယ်နှင့် အခန်း(၄၀) ပါ Service Apartment များ ဆောင်ရွက်ရာတွင် သတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ တည်ဆောက်ရန် နှင့် စံချိန်စံညွှန်းမီ တည်ဆောက်ရေးပစ္စည်းများ အသုံးပြု၍ တည်ဆောက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

၅။ အဆောက်အဦပိုင်းတွင် အဓိကဆောက်လုပ်ရေးပစ္စည်းဖြစ်သော Cement ကို ပြည်ပမှ တင်သွင်းခြင်းမပြုဘဲ ပြည်တွင်းမှသာ ဝယ်ယူ၍ ဆောက်လုပ်မည်ဖြစ်ကြောင်း တင်ပြအပ်ပါသည်။

| စဉ် | ပစ္စည်းအမျိုးအမည် | MIC တခုပ်ပါ အရေအတွက် | BQ တွင်ပါဝင်သော အရေအတွက် | ထောက်ခံတင်ပြသော အရေအတွက် |
|---|---|---|---|---|
| ၁။ | Rebar | ၁၄၆.၉၁၇ T | ၁၄၆.၉၁၇ T | ၁၄၆.၉၁၇ T |
| ၂။ | Ceremic Roof Tile | ၈၇၅၀.၂ Sqft | ၈၇၅၀.၂ Sqft | ၈၇၅၀.၂ Sqft |
| ၃။ | Tiling | ၁၃၃၀၂.၂ Sqft | ၁၃၃၀၂.၂ Sqft | ၁၃၃၀၂.၂ Sqft |
| ၄။ | Ready made Parquet | ၃၉၅၄.၂ Sqft | ၃၉၅၄.၂ Sqft | ၃၉၅၄.၂ Sqft |

T = တန် , Sqft = စတုရန်းပေ

၇။ အဆောက်အဦ၏ Electrical, Water & Sanitation and ACMV တို့နှင့် ပတ်သက်သည့် Drawing နှင့် BQ များရရှိပြီးပါကသဘောထားမှတ်ချက်အား သီးခြား ထပ်မံတင်ပြမည် ဖြစ်ပါသည်။

မှတ်ချက်။ ။(၁) ယခုတင်ပြသော စီမံကိန်းစိစစ်ရာတွင် တင်ပြသောပုံစံဒီဇိုင်းများသည် အမှန်တကယ်အသေးစိတ် တည်ဆောက်မည့် ပုံစံဒီဇိုင်းများနှင့် ကွဲလွဲမှုရှိမည်ဆိုပါက ယခုတွက်ချက်ထားသောပစ္စည်းအရေအတွက်များမှာ အမှန်တကယ်သုံးစွဲမည့်အရေအတွက်နှင့် ကွာခြားနိုင်ပါသည်။ သို့အတွက် လိုအပ်ပါက Detail Drawings မှ တွက်ချက်ထားသော Detail Estimate ရရှိပြီးသည့်အခါတွင် ပြန်လည်စိစစ်မှုများဆောင်ရွက်ရန် လိုအပ်ပါသည်။ (Subject to Check)

(၂) သက်ဆိုင်ရာမီးသတ်ဦးစီးဌာနမှချမှတ်ထားသော လမ်းညွှန်ချက်များအတိုင်းလိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

(အောင်မြင့်)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း

မိတ္တူကို – Managing Director, Amazing Holidays Hotels & Resorts Co.,Ltd

– ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

– အတွင်းရေးမှူး၊ MIC Projects Assessment Committee

– ရုံးလက်ခံ / မျှောစာတွဲ

MIC Projects Assessment Committee
Myanmar Engineering Society